




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၈၃၀....../၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ၁၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ............ ဦးမြင့်စိုး

(ခ) အဘ အမည် ............ ဦးအောင်ဘော်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်............ ၅ /မရန(နိုင်) ဝ၆၁၇၅၀

(ဃ) နေရပ်လိပ်စာ ............ အမှတ်-(၆၃)၊ ဖလမ်း၊ (၂)ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ............ ရွှေစကားကုမ္ပဏီလီမိတက် (Shwe Sakar Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ............ CMP စနစ်ဖြင့် အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြေကွက်အမှတ်(၁၉၈)၊ သမာဓိလမ်း၊ စက်မှုဇုန် အပိုင်း(၁)၊ ဒဂုံမြို့သစ် ဆိပ်ကမ်းမြို့နယ်၊ရန်ကုန်တိုင်း ဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ............ ၅၀.၀၀(သန်း) (အမေရိကန်ဒေါ်လာ (၀.၁၀)သန်း အပါအဝင် စုစုပေါင်း ကျပ်သန်းငါးဆယ်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၆၉ /၂၀၁၁(မနသ)
နေပြည်တော်၊ ၁၃၇၃ခုနှစ်၊ နတ်တော်လပြည့်ကျော် ၃ ရက်
(၂၀၁၁ခုနှစ်၊ ဒီဇင်ဘာလ ၁၃ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) သည် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူ ဒေါ်မြတ်မြတ်မော် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ စက်မှုဇုန် အပိုင်း(၁)၊ သမာဓိလမ်း၊ အမှတ်-၁၉၈ ရှိ မြေ(၃.၀၀၅)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၇-၁၂-၂၀၁၁)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၂၇/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co., Ltd.) အား CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊မနသ-၈၃၀/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါ အဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤ အမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာ တွင် မူလ အဆိုပြုလွှာ ၌ ဖော်ပြထား သည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ်ထား ရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိ ရမည်။

၆။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ ကုမ္ပဏီ အား မှတ်ပုံတင်ပြီး သည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြ ရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)(မူရင်း)

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီး ဌာနက အတည်ပြုပြီးဖြစ်သည့် ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ (Memorandum and Articles of Association)

၇။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေ နှင့် အဆောက်အဦ အငှားချထားသူ ဒေါ်မြတ်မြတ်မော် နှင့် အငှားချ ထားခြင်းခံရသူ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) တို့ ချုပ်ဆိုမည့် မြေ နှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၈။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင် သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက် များနှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထား ရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက် ရမည်။ လုပ်ငန်းခွင်သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင် ရွက်ရမည်။

၁၀။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ် ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်း သို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင် ရွက်ရမည်။

၁၂။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင် အထည်ဖော်မှု အခြေအနေများ ကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤ ကော်မရှင် သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံ မှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ် ထား သော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိ ပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်း နိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက် မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

၃/၇/၁၂

စာအမှတ်၊ရက-၆(က) /မ-၁၁၈၃/၂၀၁၁(၁၅၅၆၃ )

ရက်စွဲ၊ ၂၀၁၁ခုနှစ်၊ ဒီဇင်ဘာလ၂၃ ရက်

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။
၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။
၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။
၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။
၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၆။ ပြည်ထဲရေးဝန်ကြီးဌာန။
၇။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၁၂။ စက်မှုဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အလုပ်သမားဝန်ကြီးဌာန)
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၉။ ဥက္ကဋ္ဌ၊ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံကုန်သည်များ နှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ်။

၃၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၁။ အုပ်ချုပ်မှုဒါရိုက်တာ၊ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကဖ- ၆(က)/မ- ၁၁၈၃/၂၀၁၁ (၁၅၀၄၉ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ရွှေစကား ကုမ္ပဏီလီမိတက်(Shwe Sakar Co., Ltd.) မှ CMP စနစ်ဖြင့် အထည်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) မှ မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူ ဒေါ်မြတ်မြတ်မော် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ စက်မှုဇုန် အပိုင်း(၁)၊ သမာဓိလမ်း၊ အမှတ်-၁၉၈ ရှိ မြေ(၃.၀၀၅)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြင့်စိုး (အဘ-ဦးအောင်ဘော်) မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါ အတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှအဆိုပြုစက်ရုံ လည်ပတ် လုပ်ကိုင်ပါက အဝတ်အထည်ချုပ်လုပ်ခကို အမေရိကန်ဒေါ်လာဖြင့် ရရှိမည်ဖြစ်သဖြင့် နိုင်ငံခြား ဝင်ငွေတိုးတက် ရရှိစေခြင်း၊ လုပ်သားအင်အား (၄၇၃)ဦးခန့်ထားပြီး နည်းပညာ သင်ကြားလေ့ကျင့်ပေးမည် ဖြစ်သဖြင့် မိမိတို့၏ ပြည်သူ/ပြည်သားများ အလုပ်ရရှိခြင်း၊ နည်းပညာတတ်ကျွမ်းစေခြင်း တို့ကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှု နှင့် အလုပ်အကိုင်ရရှိမှု အတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြုမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်သင့်ပြီး လက်ရှိတွင် လုပ်ငန်းဆောင်ရွက်နေခြင်း မရှိသေးကြောင်း၊ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုမရှိသည့် လုပ်ငန်းအမျိုးအစား ဖြစ်ခြင်းတို့ကြောင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း။ နောက်ဆက်တွဲ(က)

(ခ) **ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှု လုပ်ငန်းရှင်များအသင်း**မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် တင်ပြခြင်းကို ကန့်ကွက်ရန် မရှိပါကြောင်း။ နောက်ဆက်တွဲ(ခ)

(ဂ) **CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ** သို့ ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ-မရှိ၊ CMP လက်ခနှုန်းများ တင်ပြထားမှု

သည် ဆီလျော်မှု ရှိ-မရှိ ၊ နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား/ လူအင်အား အချိုးအစား ညီမျှမှု ရှိ-မရှိ စသည်တို့ကို စိစစ် ပြန်ကြား ပေးပါရန် (၁၀-၁၀-၂၀၁၁) ရက်စွဲပါစာဖြင့် သဘောထား တောင်းခံထားပါသည်။ နောက်ဆက်တွဲ(ဂ)

(ဃ) **ဆောက်လုပ်ရေးဝန်ကြီးဌာန ၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန** မှ အဆိုပြု မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်သင့်ပါကြောင်း နှင့်အဆိုပြု မြေနေရာတွင် လုပ်ငန်းဆောင်ရွက်နေခြင်းမရှိသေးကြောင်းသဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(ဃ)

၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ရယူမည့် အပြင် ကိုယ်ပိုင် Generator ဖြင့် လည်း ဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ CMP Contract နှင့် စပ်လျဉ်း၍ ဟောင်ကောင်နိုင်ငံရှိ Profit East Asia Limited နှင့် ရွှေစကားကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသည့် MOU တင်ပြထားပါသည်။

၅။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(င) ဖြင့်တင်ပြထားပါသည်။လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၁၀)သန်း အပါအဝင် စုစုပေါင်း ကျပ်(၅၀.၀၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ အမေရိကန် ဒေါ်လာ(၀.၁၀)သန်းဖိုးအား ခွင့်ပြုမိန့် ရရှိပြီးမှ သာလျှင် ပြည်ပမှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်-

(သန်း)

| | | US$ | ကျပ် | စုစုပေါင်း (ကျပ်) |
|---|---|---|---|---|
| (က) | ငွေပမာဏ | | ၁၉.၃၈ | ၁၉.၃၈ |
| (ခ) | ပရိဘောဂ | | ၁၄.၉၈ | ၁၄.၉၈ |
| (ဂ) | စက်ပစ္စည်းကိရိယာများ | ၀.၁၀ | | ၀.၆၄ |
| (ဃ) | အဆောက်အဦ ပြုပြင်စရိတ် | | ၁၅.၀၀ | ၁၅.၀၀ |
| | **စုစုပေါင်း** | **၀.၁၀** | **၄၉.၃၆** | **၅၀.၀၀** |

၆။ အဆိုပြုလုပ်ငန်းမှ ချုပ်လုပ်ပြီး အထည်အမျိုးမျိုးကို CMP စနစ်အရ ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့၍ Reject (၁) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၅နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် CMP လက်ခနှုန်း၊ ပြည်တွင်းရောင်း ဈေးနှုန်းများမှာ တစ်ဖက်ပါ အတိုင်းဖြစ်ပါသည် -

| စဉ် | ပစ္စည်းအမျိုးအမည် | ထုတ်လုပ်မှု (Pcs) | 1 Pcs CMP လက်ခနှုန်း (US$) | 1 Pcs ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁။ | Jacket | ၆၅,၁၇၇ | ၀.၇ | ၁,၈၀၀ |
| ၂။ | Trouser | ၆၅,၁၇၇ | ၀.၅ | ၂,၇၀၀ |
| ၃။ | Skirt | ၆၅,၁၇၇ | ၀.၅ | ၂,၂၀၀ |
| ၄။ | Shirt | ၇၈,၂၁၂ | ၀.၅ | ၂,၂၀၀ |
| ၅။ | Knit Top | ၂,၆၀,၇၀၇ | ၀.၃၅ | ၁,၂၀၀ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် (သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|
| ဝင်ငွေ | ၀.၂၄ | ၁.၄၄ | ၉.၂၂ | ၁၀.၆၅ |
| အသုံးစရိတ် | ၀.၀၂၃ | ၀.၁၄ | ၁၈၂.၀၅ | ၁၈၂.၁၉ |
| အသားတင် အမြတ် | ၀.၂၁ | ၁.၂၂ | (-)၁၇၂.၈၃ | (-)၁၇၁.၅၄ |

အမေရိကန်တစ်ဒေါ်လာ= ၉၀၀ကျပ်

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် (သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|
| ဝင်ငွေ | ၀.၂၄ | ၂၁၆.၀၀ | ၉.၂၂ | ၂၂၅.၂၁ |
| အသုံးစရိတ် | ၀.၀၂၃ | ၂၀.၇၀ | ၁၉၁.၅၇ | ၂၁၂.၂၇ |
| အသားတင် အမြတ် | ၀.၂၁၇ | ၁၉၅.၃၀ | (-) ၁၈၂.၃၅ | ၁၂.၉၅ |

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့်(၁၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)မှာ (၂၈.၆၉)ရာခိုင်နှုန်းဖြစ်ပါသည်။

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ CMP လက်ခရငွေ အပေါ် (၁၀%)အခွန် ဖြတ်တောက်ရရှိငွေ အမေရိကန်ဒေါ်လာ (၀.၀၂)သန်း နှင့် ကုန်သွယ် လုပ်ငန်းခွန် ကျပ် (၀.၉၂) သန်း ရရှိမည် ဖြစ်ပါသည်။

၁၀။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ (၄၇၃)ဦး ခန့်ထားမည် ဖြစ်ပါသည်။ နိုင်ငံခြားသား ပညာရှင် (၃)ဦးအား အချိန်ပိုင်း ခန့်ထားမည်ဖြစ်ပါသည်။

၁၁။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ရွှေစကား ကုမ္ပဏီလီမိတက် အမည်ဖြင့် စာရင်းဖွင့် လှစ်ထားရှိသော မြဝတီဘဏ် ရှိ (၃၀-၉-၂၀၁၁)နေ့ စာရင်းဖွင့် ငွေလက်ကျန် ကျပ် (၅၀.၀၀)သန်း နှင့် MICBရှိ (၃-၁၀-၂၀၁၁)နေ့ စာရင်းဖွင့် ငွေလက်ကျန် အမေရိကန် ဒေါ်လာ (၀.၁၁)သန်း တင်ပြထားပါသဖြင့် အဆိုပြုလုပ်ငန်း အတွက် အသုံးပြုမည့် ကျပ်ငွေ (၄၉.၃၆)သန်း နှင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ(၀.၁၀)သန်း အတွက် လုံလောက်မှုရှိပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၄။ သို့ဖြစ်ပါ၍ ရွှေစကား ကုမ္ပဏီ လီမိတက်(Shwe Sakar Co.,Ltd.) မှ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြ လာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အေးကို၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

၂၃၃၄
၁၇/၁၁

237
23/11

စာအမှတ်၊ ၂ / ၃ - ၆ ( ၃ ) / စီး ပွား
ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၁၀-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က) / မ - ၁၁၈၃ / ၂၀၁၁ (၁၁၁၉၄ - ၆)

၁။ ရွှေစကားကုမ္ပဏီလီမိတက်မှ ရန်ကုန်အရှေ့ပိုင်းခရိုင်၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်အပိုင်း (၁)၊ သမာဓိလမ်း၊ အမှတ်-၁၉၈ ရှိ မြေ(၃. ၀၀၅)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြချက်အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်းသဘောထားမှတ်ချက်တင်ပြအပ်ပါသည်-

(က) အဆိုပြုစက်ရုံလည်ပတ်လုပ်ကိုင်ပါက အဝတ်အထည်ချုပ်လုပ်ခကို အမေရိကန်ဒေါ်လာဖြင့် ရရှိမည်ဖြစ်သဖြင့် နိုင်ငံခြားဝင်ငွေတိုးတက်ရရှိစေခြင်း၊ လုပ်သားအင်အား(၄၇၁)ဦး ခန့်ထားပြီး နည်းပညာသင်ကြားလေ့ကျင့်ပေးမည်ဖြစ်သဖြင့် မိမိတို့၏ပြည်သူ/သားများ အလုပ်ရရှိခြင်း၊ နည်းပညာတတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှင့် အလုပ်အကိုင်ရရှိမှုအတွက် အထောက်အကူဖြစ်စေမည်ဖြစ်ပါသည်။

(ခ) အဆိုပြုမြေနေရာတွင် လုပ်ငန်းဆောင်ရွက်သင့်ပြီး လက်ရှိတွင် လုပ်ငန်းဆောင်ရွက်ခြင်း မရှိသေးပါ။

(ဂ) သဘာဝပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိသည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၁၇-၁၁-၂၀၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၃/၂၀၁၁)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၈)အရ ရွှေစကားကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

၁၇/၁၁

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူ

တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ(ခ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
# ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အမှတ်–၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။
☎ : ၂၁၄၃၄၄/ ၂၁၄၃၄၅/ ၂၁၄၃၄၆/ ၂၁၄၃၄၇/ ၂၁၄၃၄၈/ ၂၁၄၃၄၉။ ဖက်စ် : ၉၅–၁–၂၁၄၄၈၄။

စာအမှတ်။ ။ ဂ/၁/၁/(ဝန်ဆောင်)/၁၁–၁၃(၁၁၆၄)
ရက်စွဲ ။ ။ ၂၀၁၁ ခုနှစ်၊အောက်တိုဘာလ ၂၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၁၀–၁၀–၂၀၁၁ ရက်စွဲပါ စာအမှတ် ရက–၆(က)/မ–၁၁၈၃/၂၀၁၁(၁၁၁၉၄–စ)

၁။ ရွှေစကား ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် အပိုင်း(၁)၊ သမာဓိလမ်း၊ အမှတ်–၁၉၈ ရှိ မြေ (၃.၀၀၅) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများ အားငှားရမ်း၍ CMPစနစ်ဖြင့် အဝတ်အထည်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မေတ္တာရပ်ခံစာကို ရရှိပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ဤအသင်းချုပ်မှစိစစ်ခဲ့ရာ ရွှေစကားကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် အပိုင်း(၁)၊ သမာဓိလမ်း၊ အမှတ်–၁၉၈ ရှိ မြေ (၃.၀၀၅)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ကိုင်ရန်ပြင်ဆင်ဆောင်ရွက်နေသည်မှာ မှန်ကန်ကြောင်း ဒဂုံဆိပ်ကမ်းမြို့၊ စက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီရုံး၏ ၂၁–၁၀–၂၀၁၁ ရက်စွဲပါစာအမှတ်၊ ဒဂဆက/ စမမ/(၀၉) ထွေ(၂၄၂) ထောက်ခံချက်နှင့်အတူ ရွှေစကား ကုမ္ပဏီလီမိတက် နှင့် MOU ရေးထိုးထားသည့် Profit East Asia Ltd (ဟောင်ကောင်)တို့၏ Company Profile စသည့်အထောက်အထားများကို တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ ရွှေစကား ကုမ္ပဏီလီမိတက် မှ ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံဆိပ်ကမ်းမြို့နယ်၊စက်မှုဇုန်အပိုင်း(၁)၊ သမာဓိလမ်း၊အမှတ်–၁၉၈ ရှိ မြေ(၃.၀၀၅) ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦများအားငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ဤအသင်းချုပ်အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။



ဥက္ကဋ္ဌ (ကိုယ်စား)
(ခိုင်ခိုင်နွယ်၊တွဲဖက်အထွေထွေအတွင်းရေးမှူး)

My doc,mic, apps

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နောက်ဆက်တွဲ(ဂ)

ဖက်(စ)၉၅-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၀၇၅၊ ၄၀၆၁၆၁
စာအမှတ်၊ ရက-၆(က) / မ- ၁၁၈၃/၂၀၁၁(၁၁၁၉၄-၈)
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာ လ ၁၀ ရက်

သို့

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ
ပြည်ထောင်စုဝန်ကြီး၊ အလုပ်သမား ဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ။**

ရည်ညွှန်းချက် ။ ရွှေစကား ကုမ္ပဏီ လီမိတက် ၏ (၂၁-၉-၂၀၁၁) ရက်စွဲ ပါစာ။

၁။ ရွှေစကား ကုမ္ပဏီ လီမိတက် မှ ရန်ကုန်တိုင်း ဒေသကြီး၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ စက်မှုဇုန် အပိုင်း(၁)၊ သမာဓိလမ်း၊ အမှတ်-၁၉၈ ရှိ မြေ(၃.၀၀၅)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ များအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြခြင်း ကို လက်ခံရရှိ ခဲ့ ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း (၃) ၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသဖြင့် အဆိုပြုချက်ပါ လုပ်ငန်းနှင့် စပ်လျဉ်း၍ နိုင်ငံတော် သမ္မတကြီး၏ လမ်းညွှန်ချက်နှင့်အညီ သဘောထားမှတ်ချက်အား တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၃။ အဆိုပါ သဘောထားမှတ်ချက် ပြန်ကြားရာတွင် ပူးတွဲပါ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို စိစစ်ပြန်ကြား ပေးနိုင်ပါရန် ဖြစ်ပါသည် -

(က) CMPကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိ-မရှိ။

(ခ) CMP လက်ခနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ - မရှိ။

(ဂ) နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား / လူအင်အား အချိုးအစားညီမျှမှု ရှိ - မရှိ။

၄။ အထက်အပိုဒ် (၃)ပါ အချက်များ အပြင် လုပ်ငန်းနှင့် စပ်လျဉ်းသည့် ကျွမ်းကျင်မှု နည်းပညာ ရပ်ပိုင်းဆိုင်ရာ အချက်အလက်များကိုပါ အထူးပြုပြန်ကြားပေးပါရန် ထပ်မံ မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(သူရဦးသောင်းလွင်၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ -

- ဝန်ကြီးရုံး၊
  အမှတ်(၁)စက်မှုဝန်ကြီးဌာန။
- ရွှေစကား ကုမ္ပဏီ လီမိတက်ထံ သိရှိနိုင်ပါရန် နှင့် သဘောထား ရရှိရေးအတွက် သက်ဆိုင်ရာ ဌာနများနှင့် ဆက်သွယ် ညှိနှိုင်း ဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။
- ရုံးလက်ခံ / မျှောစာတွဲ။

နောက်ဆက်တွဲ (ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ မအ / နဆစ /ဒဂဆ/၂၀၁၁ (၆၅၃)
ရက်စွဲ ၊၂၀၁၁ခုနှစ်၊ ဒီဇင်ဘာလ ၁ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁.၁၀.၂၀၁၁ ရက်စွဲပါစာအမှတ်၊ ရက- ၆(က)/မ-၁၁၈၃/၂၀၁၁(၁၁၁၉၄-ဃ)

(၂)ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၁၉.၁၀.၂၀၁၁ ရက်စွဲပါစာအမှတ်၊၂၆/ခွဲ-၃/၂၀၁၁(စီ၈၁၂၉)

၁။ ရွှေစကားကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး ၊ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် အပိုင်း(၁) ၊ သမာဓိလမ်း၊ မြေကွက်အမှတ်(၁၉၈)၊ မြေဧရိယာ(၃.၀၀၅) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြခြင်းနှင့် ပတ်သက်၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှစိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာများဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပြုမြေနေရာကို စိစစ်ရာ မြေကွက်အမှတ်အမှန်မှာ -(၁၉၈/၆)နှင့်(၁၉၈/၇)တို့ဖြစ်ပါသည်။ မြေ(၂)ကွက်ပေါင်းဧရိယာ - ၃.၀၀၅ဧက (၄၃၄.၆'x၃၀၁'/၃၀၂')ပေါ်တွင်(၁၀၀'x၂၀') နှစ်ထပ်ရုံးခန်း ပါဝင်သော (၁၀၀'x၂၀၀') Steel Structure တစ်ထပ်အလုပ်ရုံအဆောက်အဦ(၁)လုံး၊ဆောက်လုပ်ထား ပါသည်။ရွှေစကားကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်ခြင်း မရှိသေးပါ။ (အဆိုပြုမြေကွက် နှင့် ပတ်ဝန်းကျင်အခြေအနေပြ မြေပုံကြမ်း ပူးတွဲတင်ပြ အပ်ပါသည်။)

၃။ အဆိုပြုမြေကွက်နှင့်အဆောက်အဦအား စက်မှုဇုန် မြေအမည်ပေါက်ဒေါ်မြတ်မြတ်မော်ထံမှ ရွှေစကားကုမ္ပဏီလီမိတက်၏ ဒါရိုက်တာဦးမြင့်စိုးက တစ်လငှားရမ်းခ ကျပ်(၂၅)သိန်းဖြင့် ငှားရမ်း ဆောင်ရွက်မည်ဖြစ်ကြောင်းသိရှိရပြီး၊ ငှားရမ်းခနှုန်းမှာ ကာလဒေသပေါက်ဈေးအရ တစ်လလျှင် ကျပ်(၃၅)သိန်း ခန့်ဖြစ်သင့်ကြောင်းတွေ့ရှိရပါသည်။

၄။ သို့ပါ၍- ရွှေစကားကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ၏ မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ အဆိုပြုမြေနေရာတွင် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

(အောင်ဝင်း)

ညွှန်ကြားရေးမှူးချုပ်

<u>ဝန်ကြီးရုံး</u>

<u>ဆောက်လုပ်ရေးဝန်ကြီးဌာန</u>

မိတ္တူကို-

- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
- ရုံးလက်ခံ
- မျှောစာတွဲ

ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ မြေကွက်အမှတ်- ၁၉၈/၆နှင့် ၁၉၈/၇ ၏
တည်နေရာပြမြေပုံကြမ်း




၁၉၈/၈
၁၉၈/၄
၁၉၃.၆'
၂၀၀'
၁၀၀'
၂၀၀'
၁၉၈/၅
၁၉၈/၇
၁၉၃'
၂၀၀'
၁၉၈/၆
၂၀၂'
သမာဓိလမ်း
သမာဓိလမ်းသွယ်(၂)

 ရွှေစကားကုမ္ပဏီလီမိတက်မှအထည်ချုပ်လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ(၃.၀၀၅)ဧက

 (၁၀၀'x၂၀၀')ရှိ အရှေ့ဘက် ၂၀' တွင် နှစ်ထပ်ရုံးခန်းပါ တစ်ထပ်အလုပ်ရုံအဆောက်အဦ

မြေကွက်၏အလားအလာ

| | | |
|---|---|---|
| အရှေ့သို့လားသော် | - | သမာဓိလမ်းသွယ်(၂) |
| အနောက်သို့လားသော် | - | မြေကွက်အမှတ်-၁၉၈/၄(မြေကွက်လွတ်)၊၁၉၈/၅(မြေကွက်လပ်) |
| တောင်သို့လားသော် | - | သမာဓိလမ်း |
| မြောက်သို့လားသော် | - | မြေကွက်အမှတ်-၁၉၈/၈(မြေကွက်လပ်) |